(စ) ဘီလူးချောင်းရေအား လျှပ်စစ်စီမံကိန်းမှ လျှပ်စစ်ဓါတ်အား ဖြန့်ဖြူးရောင်းချ ခြင်း လုပ်ငန်းကိုနိုင်ငံတော်/ အမှတ်(၂)လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနမှ အခါအားလျော်စွာ သတ်မှတ်ပေးသည့်နှုန်းထားနှင့် သတ်မှတ်ချက်များနှင့်အညီ ဖြန့်ဖြူး ရောင်းချ ရပါမည်။

(ဆ) စာချုပ်ရပ်စဲသည့်အခါ သို့မဟုတ် စာချုပ်သက်တမ်း ကုန်ဆုံးသည့်အခါ (၆)လတာ ကာလအတွင်း စာချုပ်ပါ မြေနှင့်လျှပ်စစ်စီမံကိန်း၌ ရင်းနှီးမြှုပ်နှံထားသော ပစ္စည်း များ၊ တပ်ဆင်ထားသော စက်ကိရိယာ၊ အဆောက်အဦများကို လုပ်ငန်းလုပ်ကိုင်သူ (ကုမ္ပဏီ)က ကောင်းမွန်စွာထိန်းသိမ်းထားသောအနေအထားအတိုင်း အဖိုးစားနား မပါဘဲ လုပ်ငန်းခွင့်ပြုသူ (ဌာန) ထံ လွှဲပြောင်းပေးရပါမည်။

၇။ လုပ်ငန်းအဆိုပြုချက်အားနောက်ဆက်တွဲ(ခ)ဖြင့် တင်ပြထားပါသည်။ လုပ်ငန်း၏ ရင်းနှီး မြှုပ်နှံမှုပမာဏမှာ အမေရိကန်ဒေါ်လာ (၂၂.၆၇) သန်း အပါအဝင် စုစုပေါင်း ကျပ် (၂၀၃၅၃.၅၈) သန်း ဖြစ်ပါသည်။

၈။ စွမ်းအားသစ် အိုအေစစ် ဖွံ့ဖြိုးတိုးတက်မှု ကုမ္ပဏီ လီမိတက် မှ ကိုယ်ပိုင်ငွေ ကျပ် (၉၂၁၇.၅၆)သန်း၊ ချေးငွေကျပ် (၁၁၀၀၀.၀၀)သန်း၊ ကိုယ်ပိုင် နိုင်ငံခြားငွေ အမေရိကန် ဒေါ်လာ (၅.၂၇)သန်းနှင့် "ချေးငွေ အမေရိကန် ဒေါ်လာ (၁၇.၄၀)သန်း" ထည့်ဝင်မည် ဖြစ်ပါသည်။ ပြည်တွင်း ချေးငွေ ကျပ် (၁၁၀၀၀.၀၀) သန်း ကို တစ်နှစ် လျှင် အတိုးနှုန်း (၁၅) ရာခိုင်နှုန်း ဖြင့် နိုင်ငံတော်ပိုင် ဘဏ် တစ်ခုခုမှ ချေးငွေအဖြစ် ရယူမည် ဖြစ် ကြောင်းနှင့် လုပ်ငန်း စတင် လည်ပတ် ပြီး (၃)နှစ်မြောက်သည့် နှစ်မှစ၍ အချိုးညီ(၁၀)ရစ်ခွဲ၍ (၁၀)နှစ် အတွင်း ပြန်လည် ပေးဆပ်မည် ဖြစ်ကြောင်း၊ ပြည်ပချေးငွေ အမေရိကန်ဒေါ်လာ (၁၇.၄၀) သန်းအား အတိုးနှုန်း ၆ ရာခိုင်နှုန်းဖြင့် " ပြည်ပဘဏ်တစ်ခုခုမှ ချေးငွေအဖြစ် ရယူမည် ဖြစ်ကြောင်း " တင်ပြထားပါသည်။

၉။ အဆိုပြုလုပ်ငန်း၏ တပ်ဆင် စက်အင်အားမှာ (၃၀.၄)မဂ္ဂါဝပ် ဖြစ်ပြီး ၊ နှစ်စဉ်ပျမ်းမျှ ထုတ်လုပ် နိုင်မည့် ဓါတ်အားပမာဏမှာ (၁၃၄.၄)ကီလိုဝပ်နာရီသန်းပေါင်း ဖြစ်ပါသည်။ အဆိုပါ ထုတ်လုပ်နိုင်သည့် ဓါတ်အားပမာဏ၏ ၃ ရာခိုင်နှုန်း မှာ လုပ်ငန်းတွင် ပြန်လည် အသုံးပြု ခြင်းနှင့် ဓါတ်အား ဖြန့်ဖြူးရာ တွင် လျော့နည်းခြင်းတို့ဖြစ်ပါသည်။ နှစ်စဉ်ပျမ်းမျှ ရောင်းချနိုင်မှု (၁၃၄.၄) ကီလိုဝပ် နာရီသန်းပေါင်း ကို တစ်ကီလိုဝပ်လျှင် (၅၀)ကျပ်နှုန်းဖြင့် ရောင်းချ မည် ဖြစ်ပါ သည်။

၁၀။ နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အရင်းကြေကာလမတိုင်မီ "တစ်ဝက်နှုန်း" ပေးဆောင်ရန် ဖြစ်ပါသဖြင့် ဝင်ငွေခွန် ၁၅ ရာခိုင်နှုန်း အတွက် ကျပ် (၁၄၅.၈၈) သန်း နှင့် ကုန်သွယ်လုပ်ငန်းခွန် ၅ ရာခိုင်နှုန်း အတွက် ကျပ် (၃၂၅.၉၃) သန်း ဖြစ်ပြီး၊ အရင်းကြေ ပြီးနောက်ပိုင်း ဝင်ငွေခွန် ၃၀ ရာခိုင်နှုန်း အတွက် ကျပ် (၁၁၈၃.၁၇) သန်း နှင့် ကုန်သွယ် လုပ်ငန်းခွန် ၁၀ ရာခိုင်နှုန်း အတွက် ကျပ် (၆၅၁.၈၅) သန်း တို့ ဖြစ်ပါသည်။

၁၁။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၁၂) နှစ်နှင့် (၇)လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုး အမြတ်ပြန်ပေါ်နှုန်း (IRR) မှာ ၁၁.၄၄ ရာခိုင်နှုန်း ဖြစ်ပါသည်။ လုပ်ငန်း ဆောင်ရွက်ရန် အတွက်


NEO Cab